ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်-၄
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | အလံ အမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Myanmar Chemical & Machinery Co., Ltd. | ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့ လုပ်ငန်းများ အတွက် ထောက်ပံ့ရေး စခန်းတည် ဆောက်မည့် စီမံကိန်း (Offshore Supply Base Port Project) | (၁၅/၂၀၁၇) (၂၉-၅-၂၀၁၇) | - မြေအသုံးချမှု ပြောင်းလဲခြင်းအား ဆက်လက်ဆောင်ရွက်ရန်။<br>- လုပ်ငန်း ဆောင်ရွက်မည့် မြေ ဧရိယာကို ပြင်ဆင်ဖြည့်စွက် တင်ပြရန်။ | ဆောင်ရွက်ပြီး<br>ဆောင်ရွက်ပြီး | အလံ(က)<br>အလံ(ခ) |

ကုမ္ပဏီအမည် - Myanmar Chemical & Machinery Co., Ltd.

လုပ်ငန်း - ကမ်းလွန် ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းတည် ဆောက်မည့် စီမံကိန်း (Offshore Supply Base Port Project) အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၃-၅-၂၀၁၇ | | |
| ၂ | သဘောထား မှတ်ချက် တောင်းခံခြင်း | | | |
| | (က) ရခိုင်ပြည်နယ် အစိုးရအဖွဲ့ | ၅-၆-၂၀၁၇ | ၁၅-၇-၂၀၁၇ | ၃၉ ရက် |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၅-၆-၂၀၁၇ | ၂၀-၇-၂၀၁၇ | ၄၅ ရက် |
| | (ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန | ၅-၆-၂၀၁၇ | ၂၀-၆-၂၀၁၇ | ၁၆ ရက် |
| | (ဃ) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန | ၅-၆-၂၀၁၇ | ၁၆-၆-၂၀၁၅ | ၁၂ ရက် |
| ၃ | PAT (၁၅/၂၀၁၇) သို့ တင်ပြခြင်း | ၂၉-၅-၂၀၁၇ | | |
| ၄ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြလာခြင်း | ၁-၆-၂၀၁၇ | | |
| ၅ | ကုမ္ပဏီမှ အဆိုပြုလွှာ ပေးပို့ခြင်း | ၂-၈-၂၀၁၇ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၄၅ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီ အမည် | - | Myanmar Chemical & Machinery Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း |
| လုပ်ငန်းအမျိုးအစား | - | ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းတည်ဆောက်မည့် စီမံကိန်း (Offshore Supply Base Port Project) |
| တည်နေရာ | - | ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင် အမှတ်- (၁၃၇+၁၄၅)၊ (၁၁၁+၁၀၅) ရှိ လယ်မြေ ၄၄.၈၄ဧက၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေဧက ၉၅.၅ဧကနှင့် ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ် N ၈၃ နှင့် N ၁၄၁ ရှိ ဥယျာဉ်မြေ (၃.၀၀+၃.၃၆) ဧက စုစုပေါင်းမြေ ၁၄၆.၇၀ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၁၃၀,၈၄၂.၀၀ သန်း(အမေရိကန်ဒေါ်လာ ၇၂.၇၂ သန်းအပါအဝင်) |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်း ၁၀၀% |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်ခွန် ကင်းလွတ်ခွင့် | ကျပ် ၉၀၀.၃၆ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၀,၀၀၀.၀၀ သန်း | ကျပ် ၃၉,၄၉၉.၈၅ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၁၂,၇၄၀.၀၀ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၁၀၃.၂၀ သန်း<br>တစ်နှစ်ဝင်ငွေ ကျပ်၄.၈ သန်း (ကျပ်လေး ဆယ့်ရှစ်သိန်း) ကျော်ပါက အခွန်ပေးရမည့် ပြည်တွင်း ဝန်ထမ်း ၂၀ ဦး |
| ၈ | CSR (၂%) | | ကျပ် ၅,၅၉၆.၅၀ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | အမြဲတမ်း ပြည်တွင်း ၂၀ ဦး<br>ပြည်တွင်း လုပ်သား ၂၀ ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၂၀,၉၀၃.၃၆ သန်း** | **ကျပ် ၅၇,၉၄၀.၂၂ သန်း** |
| | | ၁ း ၃ | |

**အကြောင်းအရာ။** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co., Ltd. မှ ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်စီမံကိန်း (Offshore Supply Base Port Project) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Myanmar Chemical & Machinery Co., Ltd.<br>- ဦးအောင်လှိုင်ဦး(အဖ-ဦးဝင်းထွန်း) |
| | အဖွဲ့အစည်း ပုံသဏ္ဍာန် | မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| ၂။ | လုပ်ငန်းအမျိုးအစား | - ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်း များအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့် စီမံကိန်း (Offshore Supply Base Port Project ) |
| ၃။ | တည်နေရာ | - ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဦးပိုင်အမှတ်- (၁၃၇+၁၄၅)၊ (၁၁၁+၁၀၅) ရှိ လယ်မြေ ၄၄.၈၄ ဧကနှင့် ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေ ၉၅.၅ဧက၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ် N၈၃နှင့် N၁၄၁ရှိ ဥယျာဉ်မြေ (၃.၀၀+၃.၃၆) ဧက |
| | စုစုပေါင်းမြေအကျယ်အဝန်း | - ၁၄၆.၇ ဧက |
| ၄။ | မြေပိုင်ရှင် | - ဦးအောင်လှိုင်ဦး(မန်နေဂျင်းဒါရိုက်တာ) |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၃၀,၈၄၂.၀၀ သန်း (အမေရိကန်ဒေါ်လာ ၇၂.၇၂ သန်း အပါအဝင်) |

| ထည့်ဝင်သည့် အမျိုးအစား | ပြည်တွင်း (ကျပ်သန်း) | ပြည်ပ US (သန်း) | ပြည်ပ (ညီမျှသော မြန်မာကျပ် သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|
| ငွေသား | ၇၈၀.၀၀ | - | - | ၇၈၀.၀၀ |
| စက်ပစ္စည်းကိရိယာများ | - | ၃၉.၆၃ | ၅၃,၅၀၀.၀၀ | ၅၃,၅၀၀.၀၀ |
| မြေတန်ဖိုး | ၁,၅၀၀.၀၀ | - | - | ၁,၅၀၀.၀၀ |
| အဆောက်အအုံ ဆောက်လုပ်မှုကုန်ကျစရိတ် | ၂၃,၃၈၅.၀၀ | - | - | ၂၃,၃၈၅.၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၈၂.၀၀ | - | - | ၈၂.၀၀ |
| အခြား | ၆,၉၂၃.၀၀ | ၃၃.၀၉ | ၄၄,၆၇၂.၀၀ | ၅၁,၅၉၅.၀၀ |
| **စုစုပေါင်း** | ၃၂,၆၇၀.၀၀ | ၇၂.၇၂ | ၉၈,၁၇၂.၀၀ | ၁၃၀,၈၄၂.၀၀ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၁၄၀ ဦး |
| | ပြည်တွင်း | - ၁၃၅ ဦး(အနိမ့်ဆုံးလစာ - ၄၀၀,၀၀၀ ကျပ်<br>အမြင့်ဆုံးလစာ -၅,၀၀၀,၀၀၀ ကျပ်) |
| | ပြည်ပ | - ၅ဦး(အနိမ့်ဆုံးလစာ- US$ ၃,၅၀၀<br>အမြင့်ဆုံးလစာ - US$ ၁၂,၀၀၀) |
| ၇။ | ဝင်ငွေရရှိမှု (၈နှစ်မြောက်) | |
| | နှစ်စဉ်ဝင်ငွေ | - US$ ၂၉.၆၅၂ သန်း |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ (ဧနှစ်မြောက်) | |
| | ဝင်ငွေ | - US$ ၂၉.၆၅၂ သန်း |
| | အသုံးစရိတ် | - US$ ၁၁.၈၃၉ သန်း |
| | အသားတင် အမြတ် | - US$ ၁၇.၈၁၃ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဧနှစ်မြောက်) | |
| | ဝင်ငွေခွန် | - US$ ၆.၁၀ သန်း |
| ၁၀။ | ဝန်ဆောင်မှုပေးမည့် နည်းစနစ် | - ပြည်တွင်း ဝန်ဆောင်မှုပေးခြင်း (၁၀၀%) |
| ၁၁။ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၁၀၀၀ kVA |
| | နှစ်စဉ်ရေလိုအပ်ချက် | - ဂါလံ ၉.၆ သန်း |
| ၁၂။ | CSR | - Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ မရက- ၅(စ)/မ-၀၁၂/၂၀၁၇( ၃၅၉)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co., Ltd. မှ ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းတည်ဆောက်မည့် စီမံကိန်း (Offshore Supply Base Port Project) အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co., Ltd. တည်ထောင်ပြီး ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ်- (၁၃၇+၁၄၅)၊ (၁၁၁+၁၀၅) ရှိ လယ်မြေ ၄၄.၈၄ဧက၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေ ဧက၉၅.၅ဧကနှင့် ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ် N ၈၃ နှင့် N ၁၄၁ ရှိ ဥယျာဉ်မြေ (၃.၀၀+၃.၃၆) ဧက စုစုပေါင်းမြေ ၁၄၆.၇၀ ဧကတွင် ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့် စီမံကိန်း (Offshore Supply Base Port Project) အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာပါ သည်။

၂။ Myanmar Chemical & Machinery Co., Ltd. ၏ ကုမ္ပဏီဖွဲ့စည်း မှတ်ပုံတင်လက်မှတ်(မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများအား တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်လယ်မြေ ၄၄.၈၄ ဧကနှင့် ဥယျာဉ်ခြံမြေ ၉၅.၅၀ ဧက စုစုပေါင်းမြေ ၁၄၀.၃၄ ဧကအတွက် ကုမ္ပဏီမှ မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲရေးနှင့် စာရင်းအင်း ဦးစီးဌာနသို့ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၂၅ ရက်စွဲပါစာဖြင့် လယ်ယာမြေအား အခြားနည်းသုံးစွဲခွင့်ရရှိရေး ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြလျှောက်ထားသည့်စာ ပူးတွဲတင်ပြထားပါသည်။ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ် N ၈၃ နှင့် N ၁၄၁ ရှိ ဥယျာဉ်မြေ(၃.၀၀+၃.၃၆) ဧကအား ကုမ္ပဏီမှ မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနသို့ ၂၀၁၇ ခုနှစ် မေလ ၂၉ ရက်စွဲပါစာဖြင့် လယ်ယာမြေအား အခြားနည်းသုံးစွဲခွင့် ရရှိရန် လျှောက်ထားသည့် အထောက်အထားတင်ပြထားပါ သည်။

၃။ အဆိုပြုလုပ်ငန်း၏ လုပ်ငန်းတည်ဆောက်ရေးကာလမှာ ၂၄ လဖြစ်ပါသည်။ လုပ်ငန်း၏ အဓိက ဝန်ဆောင်မှုများအနေဖြင့် Logistic Management၊ Workshop Facility၊ Warehousing၊ Tubular၊ Tools services နှင့် Other Complementary Services စသည်တို့ပါဝင်ပြီး စီမံကိန်းမှ ဝန်ဆောင်မှု လုပ်ငန်း ၁၇ မျိုးဖြင့် ဆောင်ရွက်အကောင်အထည်ဖော်သွားမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။ Myanmar Chemical & Machinery Co., Ltd. မှ ဆောင်ရွက်မည့် အဆိုပြုလုပ်ငန်း၏ လုပ်ငန်း စီမံချက်၊ စီမံကိန်းမှဆောင်ရွက်မည့် ဝန်ဆောင်မှုလုပ်ငန်းများအား အကောင်အထည်ဖော်ဆောင်ရွက်မည့် Preliminary Work Schedule Chart နှင့် Site Plan နှင့် Phase I Phase II အလိုက်ဆောင်ရွက်မည့် ဝန်ဆောင်မှု လုပ်ငန်းများအား ပူးတွဲတင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ ကျပ် ၁၃၀,၈၄၂.၀၀ သန်း(အမေရိကန်ဒေါ်လာ ၇၂.၇၂ သန်းအပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု ပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | ကိုယ်ပိုင်ငွေ (ကျပ်သန်း) | ပြည်ပ (US$ သန်း) | ညီမျှသော မြန်မာကျပ် (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ငွေသား | ၇၈၀.၀၀ | - | - | ၇၈၀.၀၀ |
| စက်ပစ္စည်းကိရိယာများ | - | ၃၉.၆၃ | ၅၃,၅၀၀.၀၀ | ၅၃,၅၀၀.၀၀ |
| မြေတန်ဖိုး | ၁,၅၀၀.၀၀ | - | - | ၁,၅၀၀.၀၀ |
| အဆောက်အဦဆောက်လုပ်မှု ကုန်ကျစရိတ် | ၂၃,၃၈၅.၀၀ | - | - | ၂၃,၃၈၅.၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၈၂.၀၀ | - | - | ၈၂.၀၀ |
| အခြား | ၆,၉၂၃.၀၀ | ၃၃.၀၉ | ၄၄,၆၇၂.၀၀ | ၅၁,၅၉၅.၀၀ |
| စုစုပေါင်း | **၃၂,၆၇၀.၀၀** | **၇၂.၇၂** | **၉၈,၁၇၂.၀၀** | **၁၃၀,၈၄၂.၀၀** |

၅။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၃၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၃,၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁၂,၀၀၀ ဖြစ်ပါသည်။

၆။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များအား နောက်ဆက်တွဲ(က)၊ (ခ)၊ (ဂ)၊ (ဃ)တို့ဖြင့် တင်ပြထားပါသည်။ ကုမ္ပဏီမှ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ပြန်လည်တင်ပြထားပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် ဦးအောင်လှိုင်ဦး၊ ဒေါ်ခင်နွယ်မာထွန်းအမည်ဖြင့် ၉-၅-၂၀၁၇ ရက်စွဲဖြင့် ကမ္ဘောဇဘဏ် (မြန်မာစင်တာဘဏ်ခွဲ)၌ ကျပ် ၉၇၃,၈၀၉,၆၅၀ ရှိကြောင်း အထောက်အထားများ တင်ပြထားသည့်အပြင် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ချေးငွေရယူမည့်အစီအစဉ် ရယူမည့်အဖွဲ့အစည်း၊ ပြည်ပချေးငွေ သဘောတူစာချုပ်၊ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးအစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်မှုအစီအစဉ်၊လူမှုရပ်ရွာအကျိုးပြုမှုအစီအစဉ်အဖြစ် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂ % ကို သုံးစွဲမည့်အစီအစဉ်၊ မီးဘေးလုံခြုံရေးအစီအမံများအား တင်ပြထားပါသည်။

၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၇ ခုနှစ် မေလ ၂၉ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၅/၂၀၁၇)အစည်းအဝေးသို့တင်ပြခဲ့ပြီးဖြစ်ပါသည်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၄ အရ အခွန် ကင်း လွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များ ခံစားခွင့်ပြုရန်တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ တစ်ဘက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပါလုပ်ငန်းသည် ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့တွင် ထုတ်ပြန်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ ဥပဒေ ပုဒ်မ ၃၆(ဂ) တွင် ပါဝင်သဖြင့် ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအမျိုးအစား ဖြစ်ပြီး ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် (၁၀/၂၀၁၇) အရ ဇုန် (၁) ဖွံ့ဖြိုးမှု နည်းပါးသော ဒေသများစာရင်းတွင် ပါဝင်သဖြင့် ရင်းနှီးမြှုပ်နှံသူအား စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း ၇ နှစ်အထိ ဝင်ငွေခွန်ကင်းလွတ်ခွင့်ပြုနိုင် ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ်(၁၃/၂၀၁၇)အရ အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ သတ်မှတ်ခြင်းတွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါ သည်။

(ဂ) Offshore Supply Base Services လုပ်ငန်းဆောင်ရွက်ခွင့်အား မြင့်အင်(န်) အဆိုစီရိတ်(စ်) ကမ်းလွန် ဝန်ဆောင်မှုလုပ်ငန်း လီမိတက် နှင့် အက်(စ်) အိုင် အမ် ကုမ္ပဏီလီမိတက်တို့အား ဧရာဝတီတိုင်းဒေသကြီးတွင် လည်းကောင်း၊ MOSB Limited အား မွန်ပြည်နယ်တွင် လည်းကောင်း အသီးသီးခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co., Ltd. တည်ထောင်ပြီး ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်း၊ ဦးပိုင်အမှတ်-(၁၃၇+၁၄၅)၊ (၁၁၁+၁၀၅)ရှိ လယ်မြေ၄၄.၈၄ဧက၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေဧက၉၅.၅ ဧကနှင့် ကွင်းအမှတ်-၅၀၈၊ရွာမကွင်း၊ဦးပိုင်အမှတ် N၈၃ နှင့် N ၁၄၁ ရှိ ဥယျာဉ်မြေ (၃.၀၀+၃.၃၆) ဧက စုစုပေါင်းမြေ ၁၄၆.၇၀ ဧကတွင် ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်စီမံကိန်း (Offshore Supply Base Port Project)အား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(လက်မှတ်)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ပူးတွဲ

# Offshore Supply Base Port Project ၏ ဝန်ဆောင်မှုလုပ်ငန်းနှုန်းထားများ

| | | |
|---|---|---|
| ၁။ | OSBP ဆိပ်ကမ်းသို့ လာရောက်ဆိုက်ကပ်ပြီး ရပ်နားမည့် သင်္ဘောများအပေါ် ဆိပ်ကမ်းကပ်ခ ကောက်ခံမည့်နှုန်း<br>Marine Berthing Charges | 4.00 US$ / ft / day |
| ၂။ | ရေနံတွင်းပိုက်များထားရန် နေရာငှားရမ်းခနှုန်း<br>Pipe Yard (Rental) | 0.80 US$ / sq ft/ month |
| ၃။ | ပစ္စည်းသိုလှောင်ရုံတွင် သိုလှောင်ထားရှိမည့် ရေနံတွင်းသုံး ပစ္စည်းများအတွက် သိုလှောင်ရုံ ငှားခနှုန်း<br>Ware House (Rental) | 1.00 US$ /sq ft/ month |
| ၄။ | ထုထည်ကြီးပစ္စည်းများ ထိန်းသိမ်းထားရန် နေရာငှားခနှုန်း<br>Bulk Materials (Handling Charges) | 2.00 US$ / cu ft / month |
| ၅။ | ရေသန့်ရောင်းချမည့်နှုန်း<br>Fresh Water (Supply) | 12.00 US$ / tonne |
| ၆။ | ဒီဇယ်ဆီရောင်းချမည့် ဈေးနှုန်းမှ ၁၀%ကော်မရှင်ခ /တွက်ယူမည့်နှုန်း<br>Prmmium Diesel (Supply) (10% Comission) | 70.00 US$/ tonne |
| ၇။ | ဟယ်လီကော်ပတာ ငှားရမ်းခနှုန်း<br>Helicopter services | 5000.00 US$/ Trip |

## လုပ်ငန်းစီမံချက် ပထမအဆင့် (Phase -1) တွင် ဆောင်ရွက်မည့် လုပ်ငန်းများ

၁။ သင်္ဘောများဆိုက်ကပ်ရန် ဆိပ်ကမ်းပလက်ဖောင်း -၂၀၀ မီတာ (Marine Jetty - 200 meter)

၂။ ဆိပ်ကမ်းသို့ ရောက်ရှိလာသော ပစ္စည်းများယာယီထားရှိရန်နေရာ (Shore Front)

၃။ ရေနံနှင့်သဘာဝဓါတ်ငွေ့ တွင်းတူးလုပ်ငန်းသုံးပိုက်များထားရန်နေရာ (Pipe Yard)

၄။ ရေနံတွင်းသုံးဘိလပ်မြေဆိုင်လိုများ (Oil Well Cement Silos)

၅။ ရေနံတွင်းသုံးကျောက်မှုန့်ဆိုင်လိုများ (Barite Silos)

၆။ အုပ်ချုပ်မှုဆိုင်ရာ အဆောက်အအုံများ (Administrative Building)

၇။ လေ့ကျင့်ရေးဌာနနှင့် စားသောက်ဆိုင် (Taining & Cafeteria)

၈။ ပစ္စည်းသိုလှောင်ရုံများ (Ware Houses)

၉။ အထက်တန်းအရာရှိနေအိမ်များနှင့် ရိပ်သာ (Senior Staff Accommodation)

၁၀။ အရာထမ်းနှင့်အမှုထမ်းနေအိမ်များနှင့် ရိပ်သာ (Staff Accommodation)

၁၁။ ရေလှောင်ကန် (Water Reservoir)

၁၂။ ရေသန့်စင်စက်ရုံ (Water Treatment Plant)

၁၃။ ထရန်စဖော်မာ- ၁၀၀၀ ကေဗွီအေ (Transformer - 1000 KVA)

၁၄။ လမ်းများ (Roads)

## လုပ်ငန်းစီမံချက် ဒုတိယအဆင့် (Phase -2) တွင် ဆောင်ရွက်မည့် လုပ်ငန်းများ

၁။ သင်္ဘောများဆိုက်ကပ်ရန်ဆိပ်ကမ်းပလက်ဖောင်း - ၄၀၀ မီတာ (Marine Jetty - 400 meter)

၂။ ရေနံတွင်းသုံးရွှံ့စေးသိုလှောင်ကန် (Mud Pit)

၃။ စက်သုံးဆီသိုလှောင်ကန်များ (Tank Farm)

၄။ ပစ္စည်းသိုလှောင်ရုံများ (Ware Houses)

၅။ အရာထမ်းနှင့်အမှုထမ်းနေအိမ်များနှင့် ရိပ်သာ (Staff Accommodation)

၆။ ရေနံနှင့်သဘာဝဓါတ်ငွေ့ ရှာဖွေရေးနှင့်ထုတ်လုပ်ရေးလုပ်ငန်းသုံး စက်ပစ္စည်းများပုံစံရေးဆွဲရေးနှင့် ထုတ်လုပ်ရေးလုပ်ငန်းများအတွက်နေရာ (Space for Fabrication)

၇။ သီးသန့်နေရာ (Reserved Area)

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရခိုင်ပြည်နယ်

စာအမှတ်၊(၆၅၄)/၃/၆ - ၄(ဘဏ္ဍာ)/အဖရ(ရခိုင်)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၅ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း
ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅-၆-၂၀၁၇)ရက်စွဲပါ စာအမှတ်၊ မရက-၅(စ)/မ-၀၂၂/၂၀၁၇(၂၅၈)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co.,Ltd မှ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဦးပိုင်အမှတ်-(၁၃၇+၁၄၅)၊ (၁၁၁+၁၀၅)ရှိ မြေ(၄၄.၈၄)ဧကနှင့် ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေ (၉၅.၅)ဧက၊ စုစုပေါင်း (၁၄၀.၃၄)ဧကခွဲ ကမ်းလွန်ရေနံနှင့် သဘာဝဓါတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းတည်ဆောက်မည့်စီမံကိန်း(Offshore Supply Base Port Project) အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာပါကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၆၁ အရ ကော်မရှင်သည် အဆိုပြုချက်ကိုစိစစ်ရာတွင် လိုအပ်ပါက အစိုးရဌာနအဖွဲ့အစည်းများနှင့် ဆွေးနွေးတိုင်ပင်ပြီး သက်ဆိုင်ရာတိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရများထံသို့ သဘောထားမှတ်ချက်တောင်းခံရန် လိုအပ်လာပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှစဉ်းစားရာတွင် သက်ဆိုင်ရာတိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရ၏ ထောက်ခံချက်အား အထူးအလေးထားစဉ်းစားပါသဖြင့် ဝန်ကြီးချုပ် (သို့မဟုတ်) ဝန်ကြီးချုပ်က တာဝန်ပေးအပ်သူတစ်ဦးဦးက စိစစ်လက်မှတ်ရေးထိုးပြီး ရက်သတ္တပတ်တစ်ပတ်အတွင်း သဘောထားပြန်ကြားပေးနိုင်ပါရန် အဆိုပြုချက် (၁)စုံနှင့်အတူ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍(၁၄-၇-၂၀၁၇)ရက်နေ့တွင်ကျင်းပပြုလုပ်သော ရခိုင်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၄၀/၂၀၁၇) ဆုံးဖြတ်ချက်အရ Myanmar Chemical & Machinery Co.,Ltd မှ ဝယ်ယူထားသည့် မြေဧရိယာ(၁၄၀.၃၄)ဧကခွဲ ဆောင်ရွက်မည့် ကမ်းလွန်ရေနံနှင့် သဘာဝဓါတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းတည်ဆောက်မည့်စီမံကိန်း(Offshore Supply Base Port Project) အား ကန့်ကွက်ရန်မရှိကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(ကျော်အေးသိန်း၊ ဘဏ္ဍာရေး၊ အခွန်၊ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီး)

မိတ္တူကို
ပြည်နယ်ဝန်ကြီး၊ ဘဏ္ဍာရေး၊ အခွန်၊ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီး ဌာန
ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

M/4-9473
12.6.17

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၁၀၁/ MIC(OSS) /ဓ၁(၁၃၅/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Chemical & Machinery Co., Ltd. မှ ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့ ရှာဖွေရေးလုပ်ငန်းများအတွက်ထောက်ပံ့ရေးစခန်း တည်ဆောက်ရေးစီမံကိန်း Offshore Supply Base Port Project (ရေနက်ဆိပ်ကမ်းအပါအဝင်) အား တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၆-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ မ-၀၂၂/၂၀၁၇ (၂၅၅)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co., Ltd. မှ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၅၀၈၊ ရှာမကွင်းရှိ ဦးပိုင်အမှတ်- ၁၃၇+၁၄၅၊ ၁၁၁+၁၀၅ ရှိမြေ ၄၄.၈၄ နှင့် ကွင်းအမှတ်- ၅၀၈၊ ရှာမကွင်းရှိ ဥယျာဉ်ခြံမြေ ဧက ၉၅.၅ ဧက၊ စုစုပေါင်းမြေ ၁၄၀.၃၄ ဧက (၅,၆၇,၉၃၅.၇၇ စတုရန်းမီတာ) တွင် ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်စီမံကိန်း (Offshore Supply Base Port Project) ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀)ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာတည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်း မြေဧရိယာ (၅,၆၇,၉၃၅.၇၇ စတုရန်းမီတာ) ပေါ်တွင် Main Jeetty, Marine Jetty, Administration Office, Ware House, Senior Staff Accommodations, Staff Accommodations, Cafeteria and Recreation Center, Security Services Facilities, Medical and First Aid Facility နှင့် Fire Station အပါအဝင် လိုအပ်သည့် သိုလှောင်ရုံအဆောက်အဦများနှင့် ရေသန့်စင်စနစ်များ တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ရဟတ်ယာဉ်ဆင်းသက်ရန်ကွင်းနှင့် ရေသိုလှောင်ရန်အတွက် ဆည်အသေးစားတစ်ခု ထည့်သွင်းတည်ဆောက်သွားမည် ဖြစ်ကြောင်း၊

(ဃ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၂%) ခန့်ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Myanmar Chemical & Machinery Co., Ltd. မှ ကမ်းလွန်ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက်ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်စီမံကိန်း (Offshore Supply Base Port Project) ကိုဆောင်ရွက်ရာတွင် ဆိပ်ကမ်းနှင့်ကုန်လှောင်ရုံများတည်ဆောက်ခြင်းလုပ်ငန်းများကြောင့် ထွက်ရှိလာမည့် မြေသားအမှုန်အမွှားနှင့် ဖုန်မှုန့်များကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်၊ ယန္တရားများမှ ထွက်ရှိလာမည့် အခိုးအငွေ့များ၊ စွန့်ပစ်စက်သုံးဆီ၊ ချောဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများတွင်ပါဝင်သော သောက်ရေ/သုံးရေ ထောက်ပံ့ပေးနိုင်ရန်အတွက် ရေသိုလှောင်မည့် အသေးစားဆည်တည်ဆောက်ခြင်းနှင့် ရေနက်ဆိပ်ကမ်းတည်ဆောက်ခြင်းတို့ကြောင့် ပတ်ဝန်းကျင်နှင့်ဂေဟစနစ်ကို ထိခိုက်မှုဖြစ်စေနိုင်ခြင်း၊

(ဃ) ဆိပ်ကမ်းလုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ဆိုက်ကပ်လာမည့် သင်္ဘောများမှ ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များ၊ မိလ္လာအညစ်အကြေးများ၊ ဖိတ်စင်စက်သုံးဆီများ၊ သိုလှောင်ရုံနှင့်ရေနံလှောင်ကန်များမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်၊ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် ရေထု၊ လေထု၊ မြေထု ညစ်ညမ်းခြင်းနှင့် ဆိပ်ကမ်းတည်ဆောက်ခြင်းကြောင့် ရေနေသတ္တဝါတို့၏ ဂေဟစနစ်ကို ထိခိုက်ပျက်စီးစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Chemical & Machinery Co., Ltd. မှ ကမ်းလွန်ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်စီမံကိန်း (Offshore Supply Base Port Project) ကို ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန် ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ

တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဓ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရခိုင်ပြည်နယ်
ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

စာအမှတ်၊ လျှပ်စစ်-၂/(MIC)(၅၈၃၇)/၂၀၁၇
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၁၆ ရက်

ES-2100
19.6.17

**သို့**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၆-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/ မ-၀၂၂/ ၂၀၁၇(၂၇၅)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical & Machinery Co., Ltd မှ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၀၈၊ ရွာမကွင်းရှိ ဦးပိုင်အမှတ်-(၁၃၇+၁၄၅)၊ (၁၁၁+၁၀၅) ရှိ မြေ ၄၄.၈၄ နှင့် ကွင်းအမှတ်-၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေဧက ၉၅.၅ ဧက၊ စုစုပေါင်းမြေ ၁၄၀.၃၄ ဧကၡ ကမ်းလွန်ရေနံနှင့်သဘာဝဓာတ်ငွေ့ လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်းတည်ဆောက်မည့်စီမံကိန်း(Offshore Supply Base Port Project)အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံ လာခဲ့ပါသည်။

၂။ အဆိုပါ Offshore Supply Base Port Project သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၄၂ အရ ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုအမျိုးအစားဖြစ်ပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၅/ ၂၀၁၇ ဖြင့်ထုတ်ပြန်ထားသော ကန့်သတ်သည့် ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းများသတ်မှတ်ခြင်းစာရင်း၏ အပိုဒ်(ဃ) သက်ဆိုင်ရာဝန်ကြီးဌာနများ၏ အတည် ပြုချက်ဖြင့်ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံလုပ်ငန်းများအစီအစဉ်အပိုဒ်(၆)အရ ဤဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစားဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ ဤဝန်ကြီးဌာနအနေဖြင့်လည်း လက်ရှိအချိန်တွင် Offshore Supply Base Service လုပ်ငန်းအား ပုဂ္ဂလိကလုပ်ငန်းရှင်များနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ရန် စီစဉ်လျက်ရှိပါသည်။

၃။ မြန်မာ့ကမ်းလွန်ပင်လယ်ပြင်တွင် ရေနံနှင့်သဘာဝဓာတ်ငွေ့ ရှာဖွေ၊ တူးဖော်၊ ထုတ်လုပ်ရေး လုပ်ငန်းများကို နိုင်ငံခြားရေနံကုမ္ပဏီများမှ ရခိုင်ကမ်းလွန်လုပ်ကွက် ၁၆ ကွက်နှင့် တနင်္သာရီ ကမ်းလွန်လုပ်ကွက် ၂၁ ကွက် စုစုပေါင်း ၃၇ ကွက် တို့တွင် ဆောင်ရွက်လျက်ရှိပါသည်။ အဆိုပါ ကမ်းလွန်

လုပ်ကွက်များအတွက် Offshore Supply Base Service လုပ်ငန်းပမာဏကန့်သတ်ချက်အရ ရခိုင်နှင့် ဧရာဝတီဒေသ၌ ၁ ခု၊ တနင်္သာရီဒေသ၌ ၁ ခု တည်ဆောက်ပါက လုံလောက်နိုင်မည် ဖြစ်ပါသည်။ အရေအတွက်များပြားလာပါက ကမ်းလွန်ရေနံလုပ်ငန်းကို အထောက်အကူပြုရမည့် ဝန်ဆောင်မှုလုပ်ငန်းများ Contract ရရှိမှု နည်းပါးလာနိုင်သည့် အခက်အခဲများရှိလာနိုင်ကြောင်း သုံးသပ်ရရှိပါသည်။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာသည့် (Individual Proposal)Company များအား အချင်းချင်းစုပေါင်း၍ အဆင့်အတန်းမီ Offshore Supply Base တည်ထောင်နိုင်ရန် အကြံပြုပေးပါရန်လည်း အသိပေးအပ်ပါသည်။

၄။ မြန်မာ့ကမ်းလွန်ပင်လယ်ပြင်တွင် ရေနံနှင့်သဘာဝဓာတ်ငွေ့ ရှာဖွေတူးဖော်ထုတ်လုပ်ရေး လုပ်ငန်းများဆောင်ရွက်လျက်ရှိသည့် နိုင်ငံခြားရေနံကုမ္ပဏီများမှ Offshore Supply Base အသုံးပြု၍ ဝန်ဆောင်မှုလုပ်ငန်းများ ငှားရမ်းရန်လိုအပ်ပါက တင်ဒါဖိတ်ခေါ် ဆောင်ရွက်ရမည်ဖြစ်ရာ Offshore Supply Base Service လုပ်ငန်း လုပ်ကိုင်ခွင့်ရရှိသော ကုမ္ပဏီများအနေဖြင့် အပိုဒ် (၂)ပါ အစီအစဉ်အရ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်သည့် JV ကုမ္ပဏီနည်းတူ တင်ဒါဝင်ရောက်ယှဉ်ပြိုင်ရမည်ဖြစ်ကြောင်း ကြိုတင်အသိပေးအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၀၈)၊ ရွာမကွင်းရှိ ဦးပိုင်အမှတ်-(၁၃၇+၁၄၅)၊ (၁၁၁+၁၀၅) ရှိ မြေ ၄၄.၈၄ နှင့် ဥယျာဉ်မြေဧက ၉၅.၅ ဧက၊ စုစုပေါင်းမြေ ၁၄၀.၃၄ ဧက၌ Myanmar Chemical & Machinery Co., Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ Offshore Supply Base Port Project လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းနှင့်စပ်လျဉ်း၍ ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ဒေါက်တာထွန်းနိုင်၊ ဒုတိယဝန်ကြီး)

မိတ္တူကို

ရေနံနှင့်သဘာဝဓာတ်ငွေ့စီမံရေးဦးစီးဌာန
မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ(ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန ဝန်ကြီးရုံး

စာအမှတ်၊ပဆ-(၃)/(တံတား-MPA)၂၀၁၇( ၁၃၈ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၂၀ ရက်

-၀၈၀၇
.၆.၁၇

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ကျောက်ဖြူခရိုင်၊ မဒဲကျွန်းတွင် Offshore Supply Base Port Project စီမံကိန်းအတွက် သဘောထားမှတ်ချက်တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅.၆.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(စ)/မ-၀၂၂/၂၀၁၇ (၂၅၆)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Chemical &, Machinery Co.,Ltd မှ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်၊ မဒေးကျွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၀၈ ၊ ရွာမကွင်းရှိ ဦးပိုင်အမှတ်- (၁၃၇+၁၄၅)၊ (၁၁၁+၁၀၅) ရှိ မြေ ၄၄.၈၄ နှင့် ကွင်းအမှတ် -၅၀၈၊ ရွာမကွင်းရှိ ဥယျာဉ်မြေဧက ၉၅.၅ ဧက၊ စုစုပေါင်းမြေ ၁၄၀.၃၄ ဧက၌ ကမ်းလွန်ရေနံနှင့် သဘာဝဓါတ်ငွေ့ လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်စီမံကိန်း (Offshore Supply Base Port Project) အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာပါသဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခြင်းကိစ္စဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ Myanmar Chemical & Machinery Co.,Ltd ၏ စီမံကိန်း တည်ဆောက်မည့်နေရာသည် ကျောက်ဖြူခရိုင်၊ မဒဲကျွန်းပေါ်တွင်တည်ရှိပြီး၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်၏ Port Limit အတွင်း တည်ရှိပါသဖြင့် ဆိပ်ကမ်းလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စီမံခန့်ခွဲမှုကိုရယူရန်လိုအပ်ပြီး အဆိုပါစီမံကိန်းနေရာသည် လှိုင်းဒဏ် လေဒဏ်မှ အကာအကွယ်ရရှိပြီး ရေအနက်ကောင်းစွာရရှိသဖြင့် ဆိပ်ကမ်းတည်ဆောက်ရန် အထူး သင့်လျော်ကောင်းမွန်သောနေရာဖြစ်ပါသည်။

၃။ Myanmar Chemical & Machinery Co.,Ltd မှ ဆောင်ရွက်မည့် စီမံကိန်းနေရာသည် SEAOP ၏ Crude Sil Terminal နှင့် လွတ်ကင်းမှုရှိသော်လည်း ကျောက်ဖြူအထူးစီးပွားရေးဇုန် ဧရိယာအတွင်း ကျရောက်နေပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကျောက်ဖြူအထူး

စီးပွားရေး ဖုန်စိမ်ခန့်ခွဲမှုကော်မတီသို့ သဘောထားမှတ်ချက် မေးမြန်းသင့်ပါကြောင်း၊ Myanmar Chemical & Machinery Co.,Ltd ၏ Offshore Supply Base Port Project အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပါက ဆိပ်ကမ်းမြေအသုံးပြုခြင်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် BOT စာချုပ်ကို ချုပ်ဆိုရန် အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့်လိုင်စင်ကို လျှောက်ထားရန်၊ ထောက်ပံ့ပို့ဆောင်ရေး ရေယာဉ်များ ဝင်/ထွက် ဆိုက်ကပ်ရာတွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်အား သင်္ဘောကိုယ်စားလှယ် (Shipping Agent) အဖြစ် ခန့်အပ်ရန်နှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ထုတ်ပြန်ထားသည့် Tariff and Dues အရ ဆိပ်ကမ်းဆိုင်ရာ အခွန်အခများကို ပေးဆောင်ရန်လိုအပ်မည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Chemicl & Machinery Co., Ltd. မှ ကျောက်ဖြူခရိုင်၊ မဒဲကျွန်း၊ ကွင်းအမှတ် - ၅၀၈ ရှိ မြေ (၁၄၀.၃၄) ဧကတွင် ကမ်းလွန်ရေနံနှင့် သဘာဝဓါတ်ငွေ့လုပ်ငန်းများအတွက် ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်စီမံကိန်း (Offshore Supply Base Port Project)အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်း အပေါ် အထက်စာပိုဒ် (၃) ပါ အချက်များနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်